ရက်စွဲ။ ၂၀-၇-၂၀၁၈

# Myanmar C.P Livestock Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာတင်ပြလာခြင်း | | | မရှိပါ။ |
| ၂ | စုံစမ်းမေးမြန်းခြင်း လျှောက်ထားလွှာအပေါ် အကြောင်းပြန်ကြားခြင်း | | | မရှိပါ။ |
| ၃ | အဆိုပြုချက်တင်ပြလာခြင်း | | ၁၈-၆-၂၀၁၈ | |
| ၄ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထား တောင်းခံခြင်း<br>- ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဦးစီးဌာန(One Stop Service)<br>- ရန်ကုန်တိုင်းဒေသကြီး<br>- စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | <br>၁၉-၆-၂၀၁၈<br><br>၂၀-၆-၂၀၁၈<br>၂၀-၆-၂၀၁၈ | <br>၂၆-၆-၂၀၁၈<br><br>၁၇-၇-၂၀၁၈<br>၂-၇-၂၀၁၈ | |
| ၅ | အဆိုပြုချက်အပေါ်ပြင်ဆင် တင်ပြရမည့် အချက်များ အကြောင်းကြားခြင်း(ဥပမာ)<br>- ပြည်ပမှ တင်သွင်းမည့် မျိုးဝက်နှင့် စက်ပစ္စည်း စာရင်း<br>- အဆိုပြုချက် ပုံစံ(၂)တွင် ဝန်ထမ်းအင်အား စာရင်း ဖော်ပြပေးရန်နှင့် Annex2.10 အား ပြင်ဆင် တင်ပြရန်။<br>- မွေးမြူရေးခြံများ၏ Layout Plan | ၂-၇-၂၀၁၈ | ၂၀-၇-၂၀၁၈ | |

| | | | | |
|---|---|---|---|---|
| | - ငွေကြေး အထောက်အထား Update<br>- မြေငှားစာချုပ်များတွင် လိုအပ်ချက်များဖြည့်စွက် ပြင်ဆင်ရန်။ | | | |
| ၆ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၁၆/၂၀၁၈ (၂၅-၆-၂၀၁၈) | | |
| ၇ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၂၇-၆-၂၀၁၈ | | |
| ၈ | ကုမ္ပဏီမှ လိုအပ်ချက်များ ပြန်လည်ပေးပို့ခြင်း | ၂၀-၇-၂၀၁၈ | | |
| ၉ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၀/၂၀၁၈ (၂၆-၇-၂၀၁၈) | | |
| ၁၀ | ခွင့်ပြုမိန့်ထုတ်ပေးခြင်း | | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **( ၃၉ ) ရက်** | | |

ရက်စွဲ။ ၂၀-၇-၂၀၁၈

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

**ကုမ္ပဏီအမည်** Myanmar C.P Livestock Company Limited

**လုပ်ငန်းအမျိုးအစား** ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့် ဝက် မွေးမြူခြင်းလုပ်ငန်း

**PATအကြိမ်/နေ့စွဲ** ၁၆/၂၀၁၈ (၂၅-၆-၂၀၁၈)

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု<br>ပြီး (✓)<br>မပြီး (×) | မှတ်ချက် |
|---|---|---|---|
| ၁ | ပြည်ပမှတင်သွင်းမည့် မျိုးဝက်နှင့်စက်ပစ္စည်းစာရင်း ပြင်ဆင်တင်ပြရန်။ | ✓ | |
| ၂ | အဆိုပြုချက် ပုံစံ(၂)တွင် ဝန်ထမ်းအင်အား စာရင်း ဖော်ပြပေးရန် နှင့် Annex2.10 အား ပြင်ဆင် တင်ပြရန်။ | ✓ | |
| ၃ | မွေးမြူရေးခြံများ၏ Layout Plan တင်ပြရန်။ | ✓ | |
| ၄ | ငွေကြေး အထောက်အထား Update တင်ပြပေးရန်။ | ✓ | |
| ၅ | မြေငှားစာချုပ်များတွင် လိုအပ်ချက်များ ဖြည့်စွက် ပြင်ဆင်ရန်။ | ✓ | |

အကြောင်းအရာ။ ရခိုင်ပြည်နယ်ပြည်သူ့ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ဝက်နှင့် ဝက်သားပေါက် မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - Myanmar C.P Livestock Company Limited<br>- Mr. Uthai Tantipimolphan<br>- ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Thana Holding Co., Ltd. (Thailand) ၂၇%<br>Charoen Pokphand Enterprise Co., Ltd. (Thailand) နှင့် ၂၅%<br>CPG Enterprise Ltd (British Virgin Islands) ၄၈% |
| | လုပ်ငန်းအမျိုးအစား | - ဝက် နှင့် ဝက်သားပေါက် မွေးမြူခြင်း နှင့် ရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် (၄၃၊ ၄၄)၊ အထူးဇုန်(၂)တိုးချဲ့၊ မြေကွက်အမှတ် (၂၆၆၊ ၂၆၇)၊ အထူးဇုန်(၂)၊ မြေကွက်အမှတ် (၃၈၊ ၃၉)၊ အထူးဇုန်(၁)၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ် နှင့် မြေကွက်အမှတ် (၇၅၊ ၇၆)၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေး အထူးဇုန် (၃)၊ ကြာအင်းအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| ၃။ | မြေပိုင်ရှင် | - ဦးခွမ်တာဖ<br>- ဦးသန်းရွှေ<br>- ဦးယဉ်ထွေး |
| | မြေအကျယ်အဝန်း | - ဦးခွမ်တာဖပိုင် မြေကွက်အမှတ် (၄၃၊ ၄၄၊ ၂၆၆၊ ၂၆၇)ရှိ မြေ (၂၀)ဧက၊ ဦးသန်းရွှေပိုင် မြေကွက်အမှတ် (၃၈၊ ၃၉)ရှိ မြေ (၁၀)ဧက နှင့် ဦးယဉ်ထွေးပိုင် မြေကွက်အမှတ် (၇၅၊ ၇၆)ရှိ မြေ (၁၀)ဧက<br>- စုစုပေါင်း မြေဧရိယာ ၄၀ ဧက |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - မြေကွက်အမှတ် (၄၃၊ ၄၄)ရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အတွက်<br>တစ်နှစ် ငှားရမ်းခ ကျပ် ၄၁,၀၀၀,၀၀၀<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁၀၁၃ |

| | | |
|---|---|---|
| | | - မြေကွက်အမှတ် (၂၆၆၊ ၂၆၇)ရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အတွက်<br>**တစ်နှစ် ငှားရမ်းခ ကျပ် ၄၃,၀၀၀,၀၀၀**<br>**တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁၀၆၃** |
| | | - မြေကွက်အမှတ် (၃၈၊ ၃၉)ရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အတွက်<br>တစ်နှစ် ငှားရမ်းခ ကျပ် ၄၀,၀၀၀,၀၀၀<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၉၈၈ |
| | | - မြေကွက်အမှတ် (၇၅၊ ၇၆)ရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အတွက်<br>တစ်နှစ် ငှားရမ်းခ ကျပ် ၄၁,၀၀၀,၀၀၀<br>တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁၀၁၃ |
| | မြေငှားရမ်း အသုံးပြုခွင့် သက်တမ်း | - ၃၀ နှစ် |
| ၅။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် |
| | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား | - **အမေရိကန်ဒေါ်လာ ၁၀.၅၁၄ သန်း** ( ဈေးငွေ US$ ၇.၃၆၀ သန်း အပါအဝင်) |
| | - ငွေသား | - US$ ၁.၇၆၈ သန်း |
| | - အဆောက်အဦ | - US$ ၃.၃၉၀ သန်း |
| | - စက်ပစ္စည်းများ၊ စက်ကိရိယာများ (ပြည်တွင်းဝယ်) | - US$ ၁.၉၁၅ သန်း |
| | - ကိရိယာပစ္စည်းများ | - US$ ၁.၃၂၂ သန်း |
| | - ပရိဘောဂ၊ ရုံးသုံးပစ္စည်း | - US$ ၀.၃၇၄ သန်း |
| | - မော်တော်ယာဉ်(ပြည်တွင်းဝယ်) | - US$ ၀.၂၈၂ သန်း |
| | - အသုံးဝန်ဆောင်စနစ် တည်ဆောက်မှု | - US$ ၀.၉၆၀ သန်း |
| | - မျိုးဝက်(ပြည်ပဝယ်) | - US$ ၀.၅၀၂ သန်း |
| | စုစုပေါင်း | - US$ ၁၀.၅၁၄ သန်း |

၇။ ဝန်ထမ်းအင်အား
ပြည်တွင်း

- ၁၂၂ ဦး
- ၁၂၂ ဦး(ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ်

- ပြည်တွင်း ၁၀၀%

နှစ်စဉ်ထုတ်လုပ်မှု(ပုံမှန်နှစ်)

| စဉ် | အမျိုးအစား | အရေအတွက် (kg) | ရောင်းချမည့် ဈေးနှုန်း (Kyat/kg) |
|---|---|---|---|
| (က) | Fattening | ၂၇၆၅၈၁၂ | ၃၀၅၃ |
| (ခ) | Post Swine Breeder | ၃၄၀၀ | ၂၅၀၀ |

၉။ လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်)

- ၃၄၂၀၀ ကီလိုဝပ်

၁၀။ အခြားတင်ပြချက်

- မြေအထောက်အထားအဖြစ် ရန်ကုန်တိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့်ဖွံ့ဖြိုးရေးကောင်စီ၊ ညောင်နှစ်ပင်ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေး အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီမှ ဦးခွမ်တာဖ အမည်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်၊ ဦးယဉ်ထွေး အမည်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့်နှင့် ဦးသန်းဌွေး အမည်ဖြင့် လုပ်ငန်းလုပ်ကိုင်ခွင့် အထောက်အထားများကို တင်ပြထားပါသည်။
- ဦးခွမ်တာဖပိုင် မြေကွက်အမှတ် (၄၃၊ ၄၄)နှင့် (၂၆၆၊ ၂၆၇)၊ ဦးယဉ်ထွေးပိုင် မြေကွက်အမှတ် (၃၈၊ ၃၉)၊ ဦးသန်းဌွေးပိုင် မြေကွက်အမှတ် (၇၅၊ ၇၆) နှင့် Myanmar C.P Livestock Company Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)များ တင်ပြထားပါသည်။
- ကုမ္ပဏီမှ ဈေးငွေ အမေရိကန်ဒေါ်လာ ၇.၃၆ သန်း(၇၀%) အား ပြည်တွင်းရှိ နိုင်ငံခြားဘဏ်မှ ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။

| | | |
|---|---|---|
| | | - ပြည်ပမှ တင်သွင်းမည့် Boar (GP/PS) နှင့် Sow (GP/PS) US$ ၅၀၁၉၀၅ တန်ဖိုးရှိ စာရင်း တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Myanmar C.P Livestock Company Limited အမည်ဖြင့် မြန်မာနိုင်ငံရှိ Bangkok Bank တွင် ၃၀-၃-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၆,၉၇၆,၀၀၀,၀၀၀.၀၀ နှင့် US$ ၁၅,၈၅၀,၃၅၅.၂၂ ရှိကြောင်း တင်ပြထားပါသည်။<br>- Myanmar C.P Livestock Company Limited ၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်မိတ္တူ၊ MOA, AOA အား တင်ပြထားပါသည်။ |
| ၁၁။ | စီစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးခွင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145 တွင် အကျုံးဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၂၂/၂၀၁၈( ၃၄၀ )
ရက်စွဲ ၊ ၂၀၁၈ ခုနှစ် ဇူလိုင်လ ၂၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ဝက်နှင့် ဝက်သားပေါက် မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ ထိုင်းနိုင်ငံရှိ Thana Holding Co., Ltd. မှ (၂၇%)၊ Charoen Pokphand Enterprise Co., Ltd. မှ (၂၅%) နှင့် British Virgin Islands ရှိ CPG Enterprise Ltd မှ (၄၈%) အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ မြေကွက်အမှတ် (၄၃၊ ၄၄)၊ အထူးဇုန်(၂)တိုးချဲ့၊ မြေကွက်အမှတ် (၂၆၆၊ ၂၆၇)၊ အထူးဇုန်(၂)၊ မြေကွက်အမှတ် (၃၈၊ ၃၉)၊ အထူးဇုန်(၁)၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ မှော်ဘီမြို့နယ် နှင့် မြေကွက်အမှတ် (၇၅၊ ၇၆)၊ ဟင်းသီးဟင်းရွက် စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေး အထူးဇုန် (၃)၊ ကြာအင်းအုပ်စု၊ လှည်းကူးမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ ၄၀ ဧကအား ငှားရမ်း၍ ဝက်နှင့် ဝက်သားပေါက် မွေးမြူခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြု တင်ပြလာပါသည်။

၂။ ဦးခွမ်တာဖပိုင် မြေကွက်အမှတ် (၄၃၊ ၄၄)နှင့် (၂၆၆၊ ၂၆၇)၊ ဦးယဉ်ထွေးပိုင် မြေကွက်အမှတ် (၃၈၊ ၃၉)၊ ဦးသန်းဌွေးပိုင် မြေကွက်အမှတ် (၇၅၊ ၇၆) နှင့် Myanmar C.P Livestock Company Limited တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)များ၊ ရန်ကုန်တိုင်းဒေသကြီး အေးချမ်းသာယာရေးနှင့် ဖွံ့ဖြိုးရေးကောင်စီ၊ညောင်နှစ်ပင် ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေး နှင့် ကြက်/ငါး မွေးမြူရေး အထူးဇုန်ကြီးကြပ်မှု ဗဟိုကော်မတီမှ လုပ်ငန်းလုပ်ကိုင်ခွင့် ရရှိထားသည့် အထောက်အထားများနှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ဖြစ်ပါသည်။ မြေကွက်အမှတ် (၄၃၊ ၄၄)ရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၄၁,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁၀၁၃၊ မြေကွက်အမှတ် (၂၆၆၊ ၂၆၇)ရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၄၃,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာ

လျှင် ကျပ် ၁၀၆၃၊ မြေကွက် အမှတ်(၃၈၊၃၉)ရှိ မြေ ၁၀ ဧက(၄၀၄၆၈.၆ စတုရန်းမီတာ)အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၄၀,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၉၈၈ နှင့် မြေကွက်အမှတ် (၇၅၊ ၇၆)ရှိ မြေ ၁၀ ဧက (၄၀၄၆၈.၆ စတုရန်းမီတာ)အတွက် တစ်နှစ်ငှားရမ်းခ ကျပ် ၄၁,၀၀၀,၀၀၀ ဖြစ်ပြီး တစ်နှစ် တစ်စတုရန်းမီတာလျှင် ကျပ် ၁၀၁၃ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၀.၅၁၄ သန်း(ချေးငွေ US$ ၇.၃၆၀ သန်း အပါအဝင်) ဖြစ်ပါသည်။ ပြည်ပမှ US$ ၅၀၁.၉၀၅ တန်ဖိုးရှိ Boar (GP/PS) နှင့် Sow (GP/PS) များ တင်သွင်းမည်ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၁၂၂) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၈၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ဝက်များအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပြည်တွင်း ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (kg) | ရောင်းချမည့် ဈေးနှုန်း (Kyat/kg) |
|---|---|---|---|
| (က) | Fattening | ၂၇၆၅၉၅၂ | ၃၀၅၃ |
| (ခ) | Post Swine Breeder | ၃၄၀၀ | ၂၅၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(က)

(ခ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ခ)

(ဂ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာနမှ** ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း(Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန် နှင့် ပတ်ဝန်းကျင်

စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲ တင်ပြရမည်ဖြစ်ကြောင်း ပြန်ကြားလာပါသည်။

၉။ ငွေကြေးအထောက်အထားအဖြစ် Myanmar C.P Livestock Company Limited အမည်ဖြင့် မြန်မာနိုင်ငံရှိ Bangkok Bank တွင် ၃၁-၃-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၆,၉၇၆,၀၀၀,၀၀၀.၀၀ နှင့် US$ ၁၅,၈၅၀,၃၅၅.၂၂ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက် နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၈ ခုနှစ် ဇွန်လ ၂၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၁၆/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0145 တွင် အကျုံးဝင်ပါသည်။

(ခ) အဆိုပြု လုပ်ငန်းဆောင်ရွက်မည့် နေရာသည် ဇုန်(၂)တွင် ပါဝင်ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ဝက်နှင့် ဝက်သားပေါက် မွေးမြူခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## တိုင်းဒေသကြီးအစိုးရအဖွဲ့
## ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၁၅ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀.၆.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၂/ ခ -ပ၂၂ /၂၀၁၈ (၂၇၅)

၁။ ထိုင်းနိုင်ငံရှိ Thana Holding Co.,Ltd မှ (၂၇%)၊ Charoen Pokphand Enterprise Co.,Ltd မှ (၂၅%)နှင့် British Virgin Islnads ရှိ CPG Enterprise Ltd မှ (၄၈%) အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင် ကျေးရွာအုပ်စု၊ ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေး အထူးဇုန် (၂) တိုးချဲ့၊ မြေကွက်အမှတ်(၄၃၊ ၄၄)ရှိ မြေ (၁၀)ဧက၊ အထူးဇုန်(၂)၊ မြေကွက်အမှတ် (၂၆၆၊ ၂၆၇)ရှိ မြေ (၁၀)ဧက၊ အထူးဇုန် (၁)၊ မြေကွက်အမှတ် (၃၈၊ ၃၉) ရှိ မြေ(၁၀)ဧကနှင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ အထူးဇုန်(၃)၊ မြေကွက်အမှတ် (၇၅၊ ၇၆)ရှိ မြေ(၁၀)ဧက စုစုပေါင်း မြေဧရိယာ ၄၀ ဧကအား ငှားရမ်း၍ ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့် ဝက်မွေးမြူခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်း မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၅.၇.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၂၇/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၉၀)အရ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မှော်ဘီမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှည်းကူးမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Myanmar C.P Livestock Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2018/Cabinet 36(2)

နောက်ဆက်တွဲ- ၈

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ်၊ ၃/ ၂၀၀၀/ မွေးရေကျေး( ၃၀၅ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇူလိုင်လ ၂ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၂၂/၂၀၁၈(၂၇၆)

၁။ ရခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါးမွေးမြူရေးအထူးဇုန် (၂) တိုးချဲ့၊ မြေကွက်အမှတ် (၄၃၊၄၄) ရှိ မြေ(၁၀)ဧက၊ အထူးဇုန်(၂)၊ မြေကွက်အမှတ် (၂၆၆၊၂၆၇)ရှိ မြေ(၁၀)ဧက၊ အထူးဇုန် (၁)၊ မြေကွက်အမှတ် (၃၈၊၃၉) ရှိ မြေ(၁၀)ဧက နှင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ အထူးဇုန်(၃)၊ မြေကွက်အမှတ် (၇၅၊၇၆) ရှိ မြေ(၁၀)ဧက၊ စုစုပေါင်းမြေဧရိယာ (၄၀)ဧက ငှားရမ်း၍ ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့် ဝက်မွေးမြူခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် MIC သို့ အဆိုပြုချက် တင်ပြမှုနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ သို့ဖြစ်ပါ၍ Myanmar C.P Livestock Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ စုစုပေါင်းမြေဧရိယာ (၄၀)ဧက ငှားရမ်း၍ ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့် ဝက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခြင်းအား တိရစ္ဆာန်ကျန်းမာရေးနှင့် မွေးမြူရေးလုပ်ငန်းဖွံ့ဖြိုးတိုးတက်ရေးဥပဒေ အခန်း(၉)၊ ပုဒ်မ (၁၉)ပါ ပြဋ္ဌာန်းချက်နှင့်အညီ မွေးမြူရေးလုပ်ငန်း အကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် ကောင်းမွန်သောမွေးမြူရေးကျင့်စဉ် (Good Animal Husbandry Practice-GAHP) နှင့်အညီ ဆောင်ရွက်ပါက စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၂) ရုံးလက်ခံ

(၃) မျှော

နောက်ဆက်တွဲ-ဂ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၃၇/၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇွန်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Myanmar C.P Livestock Company Limited မှ ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့်ဝက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၉-၆-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၁၂၂/ ၂၀၁၈(၂၇၄)

၁။ ထိုင်းနိုင်ငံ Thana Holding Co., Ltd. မှ (၂၇%)၊ Charoen Pokphand Enterprise Co., Ltd. မှ (၂၅%) နှင့် British Virgin Islands ရှိ CPG Enterprise Ltd မှ (၄၈%) အစုရှယ်ယာများ ထည့်ဝင်ကာ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar C.P Livestock Company Limited မှ ရန်ကုန်တိုင်းဒေသကြီး၊ မှော်ဘီမြို့နယ်၊ ညောင်နှစ်ပင်ကျေးရွာအုပ်စု၊ ဟင်းသီးဟင်းရွက်စိုက်ပျိုးထုတ်လုပ်ရေးနှင့် ကြက်/ငါး မွေးမြူရေးအထူးဇုန်-၂ တိုး‌ချဲ့၊ မြေကွက်အမှတ်-၄၃၊ ၄၄ ရှိ မြေ (၁၀) ဧက၊ အထူးဇုန်-၂၊ မြေကွက်အမှတ်-၂၆၆၊ ၂၆၇ ရှိ မြေ (၁၀) ဧက၊ အထူးဇုန်-၁၊ မြေကွက်အမှတ်-၃၈၊ ၃၉ ရှိ မြေ (၁၀) ဧကနှင့် ရန်ကုန်တိုင်းဒေသကြီး၊ လှည်းကူးမြို့နယ်၊ ကြာအင်းအုပ်စု၊ အထူးဇုန်-၃၊ မြေကွက်အမှတ်-၇၅၊ ၇၆ ရှိ မြေ (၁၀) ဧက၊ စုစုပေါင်းမြေဧရိယာ ၄၀ ဧက (၁၆၁,၈၇၄.၂၄ စတုရန်းမီတာ) ကို ငှားရမ်း၍ ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့် ဝက်မွေးမြူခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်တည်ဆောက်သွားမည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မှော်ဘီမြို့နယ်ရှိ မြေ (၁၀) ဧက (၃) ကွက်နှင့် လှည်းကူးမြို့နယ်ရှိ မြေ (၁၀) (၁) ကွက် ၊ စုစုပေါင်း ၄၀ ဧက (၁၆၁,၈၇၄.၂၄ စတုရန်းမီတာ) ပေါ်တွင်လိုအပ်သော အဆောက်အဦများဆောက်လုပ်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းမှ တစ်နှစ်လျှင် ဝက်ကောင်ရေ (၂၇၀၀၀) ကျော်ပုံမှန် ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းစတင်ဆောင်ရွက်ပြီး (၃) နှစ်အတွင်း ထွက်ရှိလာမည့် ဝက်ချေးများကို သိုလှောင်ကန်များတွင်သိုလှောင်၍ ဇီဝလောင်စာထုတ်လုပ်ကာ လျှပ်စစ်မီးပေးဝေနိုင်အောင်ကြိုးပမ်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပြီး EIA, EMP ရေးဆွဲနိုင်ရန် စီစဉ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Myanmar C.P Livestock Company Limited မှ ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့်ဝက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြေတူးခြင်း၊ မြေသား ပြုပြင်ဖော်ထုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် မြေသား အမှုန်၊ အမွှား၊ ဖုန်မှုန့်များကြောင့် ပတ်ဝန်းကျင်လေထုနှင့်မြေ ထုညစ်ညမ်းခြင်း၊

(ခ) ဝက်မွေးမြူရေးလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ရေ၊ မိလ္လာအညစ်အကြေး အနံ့အသက်များကို စနစ်တကျ စီမံခန့်ခွဲမှုမရှိပါက ပတ်ဝန်းကျင်ညစ်ညမ်းမှုနှင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊

(ဂ) မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ညွှန်ကြားချက်နှင့်အညီ စနစ်တကျ ကာကွယ်ဆေးထိုးခြင်း၊ လိုအပ်သည့် အစီအမံများစီစဉ်ဆောင်ရွက်ထားခြင်းမရှိပါက မွေးမြူရေးဝက်များတွင်ဖြစ်ပွားတတ်သည့် တုတ်ကွေးရောဂါကြောင့် ကပ်ရောဂါအသွင် ကူးစက်ရောဂါများဖြစ်ပွားစေနိုင်ခြင်း၊ အလုပ်သမားများနှင့်ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Myanmar C.P Livestock Company Limited မှ ဝက်သားဖောက်ခြင်း၊ ဝက်သားပေါက်နှင့်ဝက်မွေးမြူခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြား အပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက် စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်

ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ ၂% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ လုပ်ငန်းဆောင်ရွက်မည့် နေရာ (၁) ခုချင်းစီအလိုက် ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ

အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဈ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ